**CONSULATE GENERAL OF THE UNION OF MYANMAR
HONG KONG**

စာအမှတ်၊ ၀၁၅- ၁၆၇၉ /၃၅ - ၇
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ဒီဇင်ဘာလ ၂၄ ရက်

သို့

ဒုတိယဝန်ကြီး
နိုင်ငံခြားရေးဝန်ကြီးဌာန

အကြောင်းအရာ။ ဟောင်ကောင်ရှိ Dickson Garments Ltd. နှင့်ပတ်သက်၍ စုံစမ်းပြန်ကြားခြင်း

ရည် ညွှန်းချက်။ နိုင်ငံခြားရေးဝန်ကြီးဌာန၏ ၂၇-၁၁-၂၀၀၇ ရက်နေ့စွဲပါစာအမှတ်၊ ၁၅၀-၁၄၈/၃၂ ၃၇ ၂၇

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဟောင်ကောင်ရှိ Dickson Garments Ltd မှ တရားဝင်မှတ်ပုံတင်ထားခြင်းရှိ-မရှိ၊ ကုမ္ပဏီ ရပ်တည်မှု အခြေအနေခိုင်မာမှု ရှိ-မရှိ၊ ထွက်ရှိလာသော ကုန်ချောများကို CMP စနစ်ဖြင့် ပြန်လည် ရယူမည်ဟူသော Agreement သည် မှန်ကန်မှု ရှိ-မရှိနှင့် ယင်းကုမ္ပဏီ၏ ဈေးကွက်အခြေအနေတို့ကို စိစစ်သုံးသပ် ပြန်ကြားပေးပါရန် ဤကောင်စစ်ဝန်ချုပ်ရုံးသို့ ညွှန်ကြားမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဤရုံးအနေဖြင့် ဟောင်ကောင်ရှိ စီးပွားရေးလုပ်ငန်းများ မှတ်ပုံတင်ဌာန (Business Registration, BR) တွင် စုံစမ်းတွေ့ရှိချက်အရ Dickson Garments Ltd သည် စီးပွားရေးလုပ်ငန်းများ မှတ်ပုံတင်ဌာနတွင် ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ 120749 ဖြင့် မှတ်ပုံတင်ထားကြောင်း သိရှိရပါသည်။

၃။ သို့ဖြစ်ရာ Dickson Garments Ltd. ကုမ္ပဏီ၏လိပ်စာဖြစ်သည့် 7/F, Block A, tin On Industrial Building, 777-779 Cheung Sha Wan Road, Cheung Sha Wan, Kowloon, Hong Kong သို့ ကောင်စစ်ဝန် ဦးစိုးကိုကိုနှင့် ဒေသခံ ဝန်ထမ်း ဦးအောင်ကျော်ထွန်းတို့မှ (၂၀-၁၂-၂၀၀၇) ရက်နေ့တွင် သွားရောက်စုံစမ်းခဲ့ရာ ထိုနေရာတွင် Dickson Garments Ltd. အမှန်တကယ် ရုံးခန်းဖွင့်လှစ်ထားကြောင်း တွေ့ရှိရပြီး၊ ရုံးခန်းအတွင်း၌ အဝတ်အထည် နမူနာများ တွေ့ရှိခဲ့ရပါသည်။

၄။ အဆိုပါကုမ္ပဏီမှ အမှုဆောင်မန်နေဂျာ ဖြစ်သူ Mr. Dennis Lau နှင့်တွေ့ဆုံခဲ့ရာ Dickson Garments Ltd. သည် မြန်မာနိုင်ငံတွင်သာမက တရုတ်နိုင်ငံနှင့် ဗီယက်နမ်နိုင်ငံများတွင်ပါ အထည်ချုပ်လုပ်ငန်း လုပ်ကိုင်လျှက်ရှိကြောင်း၊ အထည်များကို အဓိကအားဖြင့် အီးယူသို့ တင်ပို့ကြောင်း၊ မြန်မာနိုင်ငံရှိ စစ်မှန်သောကြယ် ထုတ်လုပ်ရေးလုပ်ငန်းနှင့် CMP စနစ်ဖြင့် အလုပ်လုပ်ကိုင်ရန် စာချုပ်ချုပ်ဆိုထားသည်မှာ မှန်ကန်ကြောင်း Mr. Dennis ထံမှ သိရှိရပါသည်။

၅။ သို့ဖြစ်ပါ၍ အဆိုပါ Dickson Garments Ltd. နှင့်ပတ်သက်၍ စီးပွားရေးလုပ်ငန်းများ မှတ်ပုံတင်ဌာနမှ ရရှိသည့် Annual Return နှင့် Return of Allotments ၊ Dickson Garments Ltd. မှ ပေးပို့လာသည့် Business Registration Certificate နှင့် Memorandum of Agreement between Real Star Manufacturing Co. Ltd. and Dickson Garments Ltd. မိတ္တူတို့ကို သိသာနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆောင်ရွက်နိုင်ပါရန် ဤစာနှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

(ရဲမြင့်အောင်)
ကောင်စစ်ဝန်ချုပ်

မိတ္တူကို–

– အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၄။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိ ရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့် အဆောက်အဦများကို အငှား ချထားသူ ဦးအေးသောင်း နှင့် အငှားချထားခြင်း ခံရသူ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် ( Htun International Manufacturing Co., Ltd.) တို့ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦများ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ(၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြ ထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရ မည်။

၈။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားရှိမှု အခြေအနေကိုဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၀။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင်

လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာလများ)မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကိုစီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၀၄ / ၂၀၀၈(၁၉၁၇၉ )
ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ ဒီဇင်ဘာ လ ၁၉ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။ (အမှတ်(၁)စက်မှုဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထွေထွေနှင့် ပြုပြင်ထိန်းသိမ်းရေး စက်မှုလုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၃၀။ ဥက္ကဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ အုပ်ချုပ်မှုဒါရိုက်တာ၊ ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.)

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၅၅ /၂၀၀၈(၁၈၄၁၄)၊
ရက်စွဲ ၊ ၂၀၀၈ ခုနှစ် ၊ နိုဝင်ဘာလ ၂၈ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ။ ထွန်း အပြည်ပြည် ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd. ) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဘိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Htun International Manufacturing Co., Ltd) သည် ဦးအေးသောင်းအမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန မှ အသုံးပြုခွင့်ရရှိထားသော မြေကွက် အမှတ် ၁၉၀ (ဘီ)၊ ဆိပ်ကမ်းသာ လမ်း၊ စက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၁.၈၅၉)ဧက (၈၀၉၇၈ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဘိနပ် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား ( ၁၁ -၁၁-၂၀၀၈) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၈/၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ " လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း " ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က)

၂။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်းပြန်ကြားထားပါသည်။

- အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအတွက်လိုအပ်သော လျှပ်စစ် ဓါတ်အား(၁၁၀၀)ကီလိုဝပ်အားဓါတ်အားဖြန့်ဖြူးပေးနိုင်ပါကြောင်း၊ နောက်ဆက်တွဲ(ခ)
- ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြု လုပ်ငန်း၏ မြေနေရာ နှင့် စပ်လျဉ်း၍ လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်ပါကြောင်း ၊ နောက်ဆက်တွဲ(ဂ)
- CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ သို့ သဘောထား တောင်းခံခဲ့ရာ အမှတ်(၁) စက်မှု ဝန်ကြီးဌာန မှ သဘောထား ပြန်ကြားလာပြီး အဆိုပြု လုပ်ငန်း ၏ စက်ပစ္စည်း ဈေးနှုန်း များ နှင့် CMP လက်ခနှုန်းများ ဆီလျော်မှု ရှိကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား အချိုးအစား ညီမျှမှု ရှိကြောင်း၊ နောက်ဆက်တွဲ(ဃ)

လျှို့ဝှက်

- မြန်မာ့အထွေထွေနှင့် ပြုပြင်ထိန်းသိမ်းရေး စက်မှုလုပ်ငန်းမှ ဘိနပ်ထုတ်လုပ်မှု သဘာဝနှင့် လုပ်ငန်း လိုအပ်ချက်အရ ကုန်ကြမ်းသုံးစွဲမှု ဖော်ပြထားခြင်းသည်ဆီလျော်ညီညွတ်မှု ရှိပါကြောင်း ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(င)

၃။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(စ)ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၅) သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁.၀၀) သန်း ဖြစ်ပါသည်။စက်ပစ္စည်းများ ဝယ်ယူရန် အမေရိကန်ဒေါ်လာ (၀.၁၅)သန်းကို Lucky Palace Co., Ltd ထံ မှ Account Transfer ဖြင့် ရယူ၍ ကုမ္ပဏီအနေဖြင့် ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့်ဘိနပ်များကိုCMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပြီး ၊ Reject (၁) ရာခိုင်နှုန်း ကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ CMP စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်မည့် ADVAN Co., Ltd (ဂျပန်နိုင်ငံ)သည် အဆိုပါနိုင်ငံ၏ ဥပဒေနှင့်အညီ တရားဝင် မှတ်ပုံတင်ထားသော ကုမ္ပဏီ ဖြစ်ပါကြောင်း ဂျပန်နိုင်ငံ၊ တိုကျိုမြို့ရှိ မြန်မာသံရုံး ၏ ထောက်ခံချက်ကို တင်ပြထားပါသည်။

၅။ လုပ်ငန်းမှ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

| အမှတ်စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု (အရံ) |
|---|---|---|
| ၁။ | Good Year Welt Type | ၁၃၆,၀၀၀ |
| ၂။ | Sport & Cement Type | ၁၃၆,၀၀၀ |
| ၃။ | Sandal Cement Type | ၁၃၆,၀၀၀ |
| | စုစုပေါင်း | ၄၀၈,၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ (၀.၀၅)သန်း၊ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၄.၂၈)သန်း နှင့် CMP ချုပ်ခရငွေအပေါ် (၁၀)ရာခိုင်နှုန်း ဖြတ်တောက်ရရှိမှု အမေရိကန်ဒေါ်လာ (၀.၀၃)သန်း ရရှိမည်ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းလုပ်သား(၁၉၂)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပြီး ပြည်ပ မှ (၄)ဦးအား (၂)ဦးစီ (၆)လ တစ်ကြိမ် အချိန်ပိုင်း ခန့်ထားမည်ဖြစ်ပါသည်။

၈။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကမကထပြုသူ ဦးအောင်သူထွန်း အမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ (၃၁-၇-၂၀၀၈)နေ့ငွေလက်ကျန် ကျပ်(၁၁.၅၅)သန်းတင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင် သာယာရေး နှင့် အလုပ်သမားများ သက်သာ ချောင်ချိရေး အတွက် လိုအပ်ချက်များကိုလည်း စီစဉ်ဆောင်ရွက် မည်ဖြစ်ပါကြောင်း၊ CMP လက်ခရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်နှင့် မြန်မာ့ရင်းနှီး မြှုပ်နှံမှုနှင့်ကူးသန်း ရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း၊ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ စက်များ တပ်ဆင်ပြီးပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေး နှင့် လုပ်ငန်း စစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာန၏ စစ်ဆေးမှုခံယူပြီး မှတ်ပုံတင်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

၁၁။ ဆုံးဖြတ်ရန်အချက်

ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်( Htun International Manufacturing Co., Ltd. ) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့

## ပြည်ထောင်စုမြန်မာနိုင်ငံတော်
## ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊ နိုဝင်ဘာလ(၁၁)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၈/၂၀၀၈) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၇-ခ | ၅၂၉ | ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်(Htun International Manufacturing Co., Ltd.)မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဖိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ် ..........
ရက်စွဲ ၁၈-၁၁-၂၀၀၈
ကုန်သွယ်မှုမူဝါဒကောင်စီ

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၇/ ရင်းနှီးမြှုပ်နှံမှု (ခစ) /(၂၈၀ / ၂၀၀၈)။

ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ( ၁၁ ) ရက်။

အကြောင်းအရာ ။ ။ <u>သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၈-၂၀၀၈ ရက်စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၁၀၀၄ / ၂၀၀၈(၁၃၈၉၄)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ ဆိပ်ကမ်းသာလမ်း မြေကွက်အမှတ် (၁၉၀-B)ရှိ မြေ(၁.၈၅၉)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးကို ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီမှ ငှားရမ်း၍ CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား (၁၁၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအပေါ် သဘောထား မှတ်ချက် တောင်းခံသည့် ရည်ညွှန်းပါစာအား လက်ခံရရှိခဲ့ပါသည်။

၂။ အထက်ပါ ကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၁၉၀-B) ရှိ မြေ (၁.၈၅၉) ဧကပေါ်ရှိ ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် အတွက် လိုအပ်သော လျှပ်စစ်ဓာတ်အား(၁၁၀၀)ကီလိုဝပ်အား ဓာတ်အား ဖြန့်ဖြူးပေးနိုင်ပါကြောင်း ပြန်ကြားအပ် ပါသည်။

၁၁/၉

ဒုတိယဝန်ကြီး ( ကိုယ်စား )

(ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၆၁ / ခွဲ-၃ / ၂၀၀၈ (စီ ၅၄၃၁)
ရက် စွဲ၊ ၂၀၀၈ ခုနှစ် အောက်တိုဘာလ ၅ ရက်

သို့

မြန်မာနိုင်ငံ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ခုနှစ် ဩဂုတ်လ(၂၇)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၀၀၄/၂၀၀၈ (၁၃၈၉၃)

၁။ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း (၁)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိ မြေ(၁.၈၅၉)ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦကို ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အဆိုပါမြေနေရာအား စိစစ်ရာတွင် ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်သည် မြေအမည်ပေါက် ပိုင်ဆိုင်သူ ဦးအေးသောင်းထံမှငှားရမ်းထားခြင်းဖြစ်ပြီး မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှလည်း သဘောတူခွင့်ပြုခဲ့ပါသည်။ အဆိုပါမြေပေါ်တွင် ( ၂၂၀ ' x ၁၀၀ ' ) ရှိ RC (၁)ထပ်အလုပ်ရုံနှင့် တွဲလျက် ( ၆၀ ' x ၁၀၀ ' )ရှိ (၄)ထပ် ရုံးခန်းအဆောက်အဦတစ်လုံး၊ ( ၃၅ ' x ၄၅ ' ) ရှိ (၄)ထပ် အလုပ်သမားနားနေဆောင်နှင့်တွဲလျက် ( ၃၅ ' x ၁၀၀ ' )ရှိ ဂိုဒေါင်တစ်လုံး( ၁၀၀ ' x ၄၀ ' )ရှိ ထမင်းစားဆောင်တစ်လုံးနှင့် ( ၂၅ ' x ၈ ' ) ရှိ (၂)ထပ် လုံခြုံရေးအဆောက်အဦ တစ်လုံးတို့ရှိပြီး အဆောက်အဦပြင်ဆင်ခြင်းလုပ်ငန်းများ ဆောင်ရွက်နေသည်ကို တွေ့ရှိရပါသည် ။

၂။ သို့ပါ၍ အဆိုပြုမြေကွက်ပေါ်တွင် CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်နေခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
( တင့်ဆွေ၊ ဒုတိယဝန်ကြီး )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။
-

၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**အမှတ် (၁) စက်မှုဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၂၉ / ၁၈(၁) / ၂၀၀၈ ( ၆၈၃၁ )
ရက် စွဲ၊ ၂၀၀၈ ခုနှစ် စက်တင်ဘာလ ၂၇ ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၀၄/၂၀၀၈(၁၃၈၉၂)

၁။ ထွန်းအပြည်ပြည်ဆိုင်ရာထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁) ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိမြေ(၁. ၈၅၉)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်နှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာနမှအောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဤဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားခြင်းမရှိပါ။

(ခ) မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်းမှ ရှူးဖိနပ်(၁)ရံထုတ်လုပ်ခြင်းကိစ္စအတွက် သားရေ(၅. ၂) စတုရန်းပေ အသုံးပြုပါသည်။ ယခုအဆိုပြုလွှာနှင့်ပူးတွဲတင်ပြသည့် Exhibit (IV) တွင်ဖော်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့် Exhibit (V) အရ ထုတ်လုပ်မည့် ဖိနပ်အရေအတွက်အား အခြေပြုတွက်ချက်ပါက ဖိနပ်(၁)ရံလျှင် သားရေ(၆)စတုရန်းပေအသုံးပြုကြောင်း တွေ့ရှိရပါသည်။ ၎င်းအပြင် ထုတ်လုပ်မည့်ပစ္စည်း(၃)မျိုးလုံးအတွက် ရှူးဖိနပ်အပေါ်ဖုံးများကိုလည်း ပိုမို ထည့်သွင်းဖော်ပြထားကြောင်း၊ အောက်ဆိုးလ်ကိုလည်း ထုတ်လုပ်မည့်ဖိနပ် အရံရေအတိုင်းလိုအပ်ကြောင်း၊ Exhibit (V) အရ ထုတ်လုပ်မည့်အမှတ်စဉ်(၃)ပါ ခြေညှပ်ဖိနပ်အတွက် သားရေသာလိုအပ် မည်ဖြစ်သော်လည်း ရှူးဖိနပ်အပေါ်ဖုံးလိုအပ်ချက်ကိုပါ ထည့်သွင်းဖော်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) Exhibit (III) နှင့် (III-A) တွင် ဖော်ပြထားသော စက်ပစ္စည်းဈေးနှုန်းများမှာ ယေဘုယျအားဖြင့် ဆီလျော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။ CMP လုပ်ခအား ဖိနပ်(၁)ရံလျှင် ပျမ်းမျှ US$ 0.57 ဖော်ပြထားသဖြင့် ဆီလျော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ဃ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစားမှာ ယေဘုယျအားဖြင့် ညီမျှမှုရှိကြောင်းတွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ ထွန်းအပြည့်ပြည့်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရေးနှင့်ပတ်သက်၍ အထက်ဖော်ပြပါအတိုင်း စိစစ်တွေ့ရှိမှုများကို ပြန်ကြားအပ်ပါသည်။

၂၃/၀၈/၂၀၀၈

ဝန်ကြီး( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

လျှို့ဝှက် | နောက်ဆက်တွဲ(င)

၉

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## အမှတ်(၁)စက်မှုဝန်ကြီးဌာန
## မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

စာအမှတ်၊ ၄၄၃ /၁၅၀၈/စ-၄၄

ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ CMP စနစ်ဖြင့် ရှူးဖိနပ်ထုတ်လုပ်မည့် အဆိုပြုလွှာကိစ္စ

ရည်ညွှန်းချက်။ မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း၏ ၁၅. ၉. ၂၀၀၈ ရက်စွဲပါစာအမှတ် ၇၀၀/၁၅၀၈/စ-၄၄

၁။ ထွန်းအပြည်ပြည်ဆိုင်ရာထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိ မြေ ၁. ၈၅၉ ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMPစနစ်ဖြင့် ဖိနပ် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်အပေါ် ဤစက်မှုလုပ်ငန်းမှ ရည်ညွှန်းပါစာဖြင့် အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခဲ့ပါသည် -

(က) ရှူးဖိနပ်(၁)ရံအတွက် ကုန်ကြမ်းလိုအပ်ချက်နှင့်ထုတ်လုပ်မည့်ဖိနပ်အရေ အတွက်တို့ကို အခြေပြုတွက်ချက်ရာတွင် ဖိနပ်(၁)ရံလျှင် သားရေ၀. ၈ စတုရန်းပေကွာခြားမှုရှိကြောင်းသုံးသပ်ခဲ့ပါသည်။ ထုတ်လုပ်မည့် ပစ္စည်း (၃)မျိုးအတွက် ရှူးဖိနပ်အပေါ်ဖုံးများကို ပိုမိုထည့်သွင်းထားကြောင်းနှင့် အောက်ဆိုးလ်ကို ထုတ်လုပ်မည့်ဖိနပ်အရံရေအတိုင်း လိုအပ်ကြောင်းကိုလည်း ဖော်ပြခဲ့ပါသည်။ ခြေညှပ်ဖိနပ်အတွက် ရှူးဖိနပ်အပေါ်ဖုံးလိုအပ်ချက်ကို ထည့်သွင်းဖော်ပြထားကြောင်း စိစစ်တွေ့ရှိချက်ကိုလည်း ပေးပို့ခဲ့ပါသည်။

(ခ) စက်ပစ္စည်းဈေးနှုန်းများနှင့်CMPလုပ်ခတို့မှာ ဆီလျော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအမျိုးအစားမှာ ယေဘုယျအားဖြင့် ညီညွတ်မှုရှိကြောင်းတွေ့ရှိရပါသည်။



D;\Planning \UACT\ACT (NS) pmd (35)*

၂။ အဆိုပါသဘောထားမှတ်ချက်နှင့်ပတ်သက်၍ ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ၂၉. ၉. ၂၀၀၈ ရက်စွဲပါစာဖြင့် ရှင်းလင်းတင်ပြချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) အဆိုပြုလွှာနှင့်အတူပူးတွဲပါရှိသော ဇယား(၄)တွင် ဖော်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့်ဇယား(၅)အရ ထုတ်လုပ်မည့် ဖိနပ်အရေအတွက်အားအခြေပြုတွက်ချက်လျှင် ပိုနေသည့် Shoe Upper Leather နှင့် Out Sole များထည့်သွင်းထားခြင်းမှာ အမှာစာအချို့ဆိုင်းငံ့ချိန်များတွင် စက်ရုံဝန်ထမ်းများ လုပ်ငန်းမပြတ်လပ်စေရေးနှင့်တစ်ဝက်တစ်ပျက်ကုန်ချောများ ထုတ်လုပ်နိုင်ရေးအတွက် ထည့်သွင်းဖော်ပြထားခြင်းဖြစ်ကြောင်း၊

(ခ) ဖော်ပြပါ တစ်ဝက်တစ်ပျက်ကုန်ချောများ အသုံးပြုထုတ်လုပ်သည့်ကုန်ချောဖိနပ်များအားလုံးကို ပြည်ပသို့တင်ပို့မည်ဖြစ်ကြောင်း၊

၃။ သို့ဖြစ်ပါ၍ ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်၏ ပြန်လည်ရှင်းလင်းတင်ပြချက်အရ ဖိနပ်ကုန်ကြမ်းများ ထည့်သွင်းဖော်ပြချက်မှာ ဖိနပ်ထုတ်လုပ်မှုသဘာဝနှင့်လုပ်ငန်းလိုအပ်ချက်အရ ဆီလျော်ညီညွတ်မှုရှိပါကြောင်း ဤစက်မှုလုပ်ငန်း၏ သဘောထားမှတ်ချက်အား စိစစ်ပြန်ကြားအပ်ပါသည်။

အေးမောက်
ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

မိတ္တူကို
- အမှတ်(၁)စက်မှုဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်
စက်မှုညွှန်ကြားရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဤစက်မှုလုပ်ငန်း၏၁၅. ၉. ၂၀၀၈ ရက်စွဲပါစာအမှတ် ၇၀၀/၁၅၀၈/စ-၄၄ ကို ရည်ညွှန်း၍ပေးပို့အပ်ပါသည်။



D;\Planning \UACT\ACT (NS) pmd (36)*

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၅၅ /၂၀၀၈(၁၇၄၄၅)၊
ရက်စွဲ ၊ ၂၀၀၈ ခုနှစ် ၊ နိုဝင်ဘာလ ၆ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ ထွန်း အပြည်ပြည် ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd. ) မှ CMP စနစ် ဖြင့် နိုင်ငံတကာအဆင့်မီဘိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Htun International Manufacturing Co., Ltd) သည် ဦးအေးသောင်းအမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန မှ အသုံးပြုခွင့်ရရှိထားသော မြေကွက် အမှတ် ၁၉၀ (ဘီ)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၁.၈၅၉)ဧက (၈၀၉၇၈ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဘိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၃၁.၁၀.၂၀၀၈) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၃/၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ " ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် " ဆုံးဖြတ်ခဲ့ပါသည်။

၂။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာနများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်းပြန်ကြားထားပါသည်။

- အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအတွက်လိုအပ်သော လျှပ်စစ်ဓါတ်အား(၁၁၀၀)ကီလိုဝပ်အားဓါတ်အားဖြန့်ဖြူးပေးနိုင်ပါကြောင်း၊ နောက်ဆက်တွဲ(က)
- ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြု လုပ်ငန်း၏ မြေနေရာ နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်ပါကြောင်း ၊ နောက်ဆက်တွဲ(ခ)
- CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ သို့ သဘောထား တောင်းခံခဲ့ရာ အမှတ်(၁) စက်မှု ဝန်ကြီးဌာန မှ သဘောထား ပြန်ကြားလာပြီး အဆိုပြု လုပ်ငန်း ၏ စက်ပစ္စည်းဈေးနှုန်း များ နှင့် CMP လက်ခနှုန်းများ ဆီလျော်မှု ရှိကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား အချိုးအစား ညီမျှမှု ရှိကြောင်း၊ နောက်ဆက်တွဲ(ဂ)

- မြန်မာ့အထွေထွေနှင့် ပြုပြင်ထိန်းသိမ်းရေး စက်မှုလုပ်ငန်းမှ ဘိနပ်ထုတ်လုပ်မှု သဘာဝ နှင့် လုပ်ငန်း လိုအပ်ချက်အရ ကုန်ကြမ်းသုံးစွဲမှု ဖော်ပြထားခြင်းသည်ဆီလျော်ညီညွတ်မှု ရှိပါကြောင်း ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ဃ)

၃။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(င) ဖြင့် တင်ပြအပ်ပါသည်။လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၅) သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ် (၁၀.၁၀) သန်းနှင့် စက်ပစ္စည်းကိရိယာများတန်ဖိုး ကျပ်(၀.၉၀) သန်း(အမေရိကန် ဒေါ်လာ ၀.၁၅ သန်း) ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများ ဝယ်ယူ ရန် အမေရိကန် ဒေါ်လာ (၀.၁၅)သန်းကို Lucky Palace Co., Ltd ထံ မှ Account Transfer ဖြင့် ရယူ၍ ကုမ္ပဏီအနေဖြင့် ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်းမှ ချုပ်လုပ်ပြီးအထည်များကို CMP စနစ်အရ ပြည်ပသို့ (၉၉)ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပြီး ၊ Reject (၁%)ကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ CMP စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်မည့် ADVAN Co., Ltd (ဂျပန်နိုင်ငံ)သည် အဆိုပါနိုင်ငံ၏ ဥပဒေနှင့်အညီ တရားဝင် မှတ်ပုံတင်ထားသော ကုမ္ပဏီ ဖြစ်ပါကြောင်း ဂျပန်နိုင်ငံ၊ တိုကျိုမြို့ရှိ မြန်မာသံရုံး ၏ ထောက်ခံချက်ကို တင်ပြထားပါသည်။

၅။ လုပ်ငန်းမှ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု ၊ CMP လက်ခနှုန်း နှင့် ရောင်းဈေးနှုန်း မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

| အမှတ်စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု (အရံ) | CMP လက်ခ တစ်ရံနှုန်း (US$) | ပြည်တွင်း ရောင်းဈေး တစ်ရံနှုန်း(ကျပ်) |
|---|---|---|---|---|
| ၁။ | Good Year Welt Type | ၁၃၆,၀၀၀ | ၁.၃၀ | ၁၂၅၀၀ |
| ၂။ | Sport & Cement Type | ၁၃၆,၀၀၀ | ၀.၇၀ | ၁၀၅၀၀ |
| ၃။ | Sandal cement Type | ၁၃၆,၀၀၀ | ၀.၅၀ | ၈၅၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ (၀.၀၅)သန်း၊ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၄.၂၈)သန်း နှင့် CMP ချုပ်ခရငွေအပေါ် (၁၀)ရာခိုင်နှုန်း ဖြတ်တောက်ရရှိမှု အမေရိကန်ဒေါ်လာ (၀.၀၃)သန်း ရရှိမည်ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းလုပ်သား(၁၉၂)ဦး အလုပ်အကိုင် ရရှိ မည်ဖြစ်ပြီး ပြည်ပ မှ (၄)ဦးအား (၂)ဦးစီ (၆)လ တစ်ကြိမ် အချိန်ပိုင်း ခန့်ထားမည်ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့် အလုပ်သမားများ သက်သာချောင်ချိရေးအတွက် လိုအပ်ချက်များကိုလည်း စီစဉ်ဆောင်ရွက် မည်ဖြစ်ပါကြောင်း၊ CMP လက်ခရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်နှင့် မြန်မာ့ရင်းနှီး မြှုပ်နှံမှုနှင့်ကူးသန်း ရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း၊ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ စက်များ တပ်ဆင်ပြီးပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေး နှင့် လုပ်ငန်း စစ်ဆေးမှု ညွှန်ကြားရေးဦးစီးဌာန၏ စစ်ဆေးမှုခံယူပြီး မှတ်ပုံတင်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု ထားပါသည်။

၉။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

၁၀။ <u>ဆုံးဖြတ်ရန်အချက်</u>

ထွန်း အပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက်( Htun International Manufacturing Co., Ltd. ) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

၁၁။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ</u>

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ထွန်း အပြည်ပြည် ဆိုင်ရာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် ( Htun International Manufacturing Co., Ltd.) | ၁။ ဦးကျော်လင်းထွန်း ဒါရိုက်တာ | တိုက်အမှတ် (၁၂၁)၊ အခန်း(၈)၊ ရန်နောင်လမ်းသွယ် (၄)၊ အရှေ့ ရန်ကင်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | ၂။ ဦးအောင်သူထွန်း ဒါရိုက်တာ | တိုက်အမှတ် (၃)၊ အခန်း(၂)၊ အေးရိပ်မွန်(၄)လမ်း ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်ကေသီဦး ဒါရိုက်တာ | တိုက်အမှတ် (၃)၊ အခန်း(၂)၊ အေးရိပ်မွန်(၄)လမ်း ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် | - ၀၁-၆၈၅၅၉၉ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - တိုက်အမှတ်(၃)၊ အခန်း(၂)၊ အေးရိပ်မွန် (၄)လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - ဦးအောင်သူထွန်း (ဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - စက်မှု / ထုတ်လုပ်မှု။ |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - ၇၉၀/ ၂၀၀၈-၂၀၀၉ (၂၆-၉-၂၀၀၈) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံး မည့်နေ့စွဲ | - (၂-၄-၂၀၀၉) |
| ၇။ | ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - ကမ္ဘောဇဘဏ်လီမိတက် ဘဏ်စာရင်းအမှတ်၊၀၂၁၁၂၂၀၀၁၅၁၁၂ |

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

M-၃၁၆၀
၁၁.၉

စာအမှတ်၊ ၇/ ရင်းနှီးမြှုပ်နှံမှု (စစ) /(၂၈၀ / ၂၀၀၈)။

ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ စက်တင်ဘာလ ( ၁၁ ) ရက်။

အကြောင်းအရာ ။ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၈-၂၀၀၈ ရက်စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၁၀၀၄ / ၂၀၀၈(၁၃၈၉၄)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ ဆိပ်ကမ်းသာလမ်း မြေကွက်အမှတ် (၁၉၀-B)ရှိ မြေ(၁.၈၅၉)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦးကို ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီမှ ငှားရမ်း၍ CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား (၁၁၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာနအပေါ် သဘောထား မှတ်ချက် တောင်းခံသည့် ရည်ညွှန်းပါစာအား လက်ခံရရှိခဲ့ပါသည်။

၂။ အထက်ပါ ကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၁၉၀-B) ရှိ မြေ (၁.၈၅၉) ဧကပေါ်ရှိ ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် အတွက် လိုအပ်သော လျှပ်စစ်ဓာတ်အား(၁၁၀၀)ကီလိုဝပ်အား ဓာတ်အား ဖြန့်ဖြူးပေးနိုင်ပါကြောင်း ပြန်ကြားအပ် ပါသည်။

ဒုတိယဝန်ကြီး ( ကိုယ်စား )
(ဒေါက်တာသိန်းထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နောက်ဆက်တွဲ - ခ

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၆၁ / ခွဲ - ၃ / ၂၀၀၈ (စီ ၅၄၃၁)
ရက် စွဲ၊ ၂၀၀၈ ခုနှစ် အောက်တိုဘာလ ၇ ရက်

သို့

မြန်မာနိုင်ငံ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ခုနှစ် ဩဂုတ်လ(၂၇)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၀၀၄/၂၀၀၈ (၁၃၈၉၃)

၁။ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း (၁)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိ မြေ(၁.၈၅၉)ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦကို ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အဆိုပါမြေနေရာအား စိစစ်ရာတွင် ထွန်းအပြည်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်သည် မြေအမည်ပေါက်ပိုင်ဆိုင်သူ ဦးအေးသောင်းထံမှငှားရမ်းထားခြင်းဖြစ်ပြီး မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှလည်း သဘောတူခွင့်ပြုခဲ့ပါသည်။ အဆိုပါမြေပေါ်တွင် ( ၂၂၀ ' x ၁၀၀ ' ) ရှိ RC (၁)ထပ်အလုပ်ရုံနှင့်တွဲလျက် ( ၆၀ ' x ၁၀၀ ' )ရှိ (၄)ထပ် ရုံးခန်းအဆောက်အဦတစ်လုံး၊ ( ၃၅ ' x ၄၅ ' ) ရှိ (၄)ထပ် အလုပ်သမားနားနေဆောင်နှင့်တွဲလျက် ( ၃၅ ' x ၁၀၀ ' )ရှိ ဂိုဒေါင်တစ်လုံး( ၁၀၀ ' x ၄၀ ' )ရှိ ထမင်းစားဆောင်တစ်လုံးနှင့် ( ၂၅ ' x ၈ ' ) ရှိ (၂)ထပ် လုံခြုံရေးအဆောက်အဦ တစ်လုံးတို့ရှိပြီး အဆောက်အဦပြင်ဆင်ခြင်းလုပ်ငန်းများ ဆောင်ရွက်နေသည်ကို တွေ့ရှိရပါသည် ။

၂။ သို့ပါ၍ အဆိုပြုမြေကွက်ပေါ်တွင် CMP စနစ်ဖြင့် ဘိနပ်အမျိုးမျိုး ထုတ်လုပ်နေခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
( တင့်ဆွေ၊ ဒုတိယဝန်ကြီး )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။
-

MIC 3

နောက်ဆက်တွဲ - ဂ

၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**အမှတ် (၁) စက်မှုဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၂၉ / ၁၈(၁) / ၂၀၀၈ ( ၆၈၃၁ )
ရက် စွဲ၊ ၂၀၀၈ ခုနှစ် စက်တင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ ခုနှစ် ဩဂုတ်လ ၂၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၀၄/၂၀၀၈(၁၃၈၉၂)

၁။ ထွန်းအပြည်ပြည်ဆိုင်ရာထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁) ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိမြေ(၁. ၈၅၉)ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်နှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာနမှအောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဤဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားခြင်းမရှိပါ။

(ခ) မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်းမှ ရှူးဖိနပ်(၁)ရံထုတ်လုပ်ခြင်းကိစ္စအတွက် သားရေ(၅. ၂) စတုရန်းပေ အသုံးပြုပါသည်။ ယခုအဆိုပြုလွှာနှင့်ပူးတွဲတင်ပြသည့် Exhibit (IV) တွင်ဖော်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့် Exhibit (V) အရ ထုတ်လုပ်မည့် ဖိနပ်အရေအတွက်အား အခြေပြုတွက်ချက်ပါက ဖိနပ်(၁)ရံလျှင် သားရေ(၆)စတုရန်းပေအသုံးပြုကြောင်း တွေ့ရှိရပါသည်။ ၎င်းအပြင် ထုတ်လုပ်မည့်ပစ္စည်း(၃)မျိုးလုံးအတွက် ရှူးဖိနပ်အပေါ်ဖုံးများကိုလည်း ပိုမို ထည့်သွင်းဖော်ပြထားကြောင်း၊ အောက်ဆိုးလ်ကိုလည်း ထုတ်လုပ်မည့်ဖိနပ် အရံရေအတိုင်းလိုအပ်ကြောင်း၊ Exhibit (V) အရ ထုတ်လုပ်မည့်အမှတ်စဉ်(၃)ပါ ခြေညှပ်ဖိနပ်အတွက် သားရေသာလိုအပ် မည်ဖြစ်သော်လည်း ရှူးဖိနပ်အပေါ်ဖုံးလိုအပ်ချက်ကိုပါ ထည့်သွင်းဖော်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) Exhibit (III) နှင့် (III-A) တွင် ဖော်ပြထားသော စက်ပစ္စည်းဈေးနှုန်းများမှာ ယေဘုယျအားဖြင့် ဆီလျော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။ CMP လုပ်ခအား ဖိနပ်(၁)ရံလျှင် ပျမ်းမျှ US$ 0.57 ဖော်ပြထားသဖြင့် ဆီလျော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ဃ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစားမှာ ယေဘုယျအားဖြင့် ညီမျှမှုရှိကြောင်းတွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ ထွန်းအပြည့်ပြည့်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရေးနှင့်ပတ်သက်၍ အထက်ဖော်ပြပါအတိုင်း စိစစ်တွေ့ရှိမှုများကို ပြန်ကြားအပ်ပါသည်။

ဝန်ကြီး( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

နောက်ဆက်တွဲ - ဃ

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ်(၁)စက်မှုဝန်ကြီးဌာန
# မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

စာအမှတ်၊ ၁၄၃ /၁၅၀၈/စ-၄၄
ရက်စွဲ၊ ၂၀၀၈ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

အကြောင်းအရာ။ **CMP စနစ်ဖြင့် ရှူးဖိနပ်ထုတ်လုပ်မည့် အဆိုပြုလွှာကိစ္စ**

ရည်ညွှန်းချက်။ မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း၏ ၁၅. ၉. ၂၀၀၈ ရက်စွဲပါစာအမှတ် ၇၀၀/၁၅၀၈/စ-၄၄

၁။ ထွန်းအပြည်ပြည်ဆိုင်ရာထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၉၀-B)ရှိ မြေ ၁. ၈၅၉ ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMPစနစ်ဖြင့် ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်အပေါ် ဤစက်မှုလုပ်ငန်းမှ ရည်ညွှန်းပါစာဖြင့် အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခဲ့ပါသည် -

(က) ရှူးဖိနပ်(၁)ရံအတွက် ကုန်ကြမ်းလိုအပ်ချက်နှင့်ထုတ်လုပ်မည့်ဖိနပ်အရေအတွက်တို့ကို အခြေပြုတွက်ချက်ရာတွင် ဖိနပ်(၁)ရံလျှင် သားရေ၀. ၈ စတုရန်းပေကွာခြားမှုရှိကြောင်းသုံးသပ်ခဲ့ပါသည်။ ထုတ်လုပ်မည့် ပစ္စည်း(၃)မျိုးအတွက် ရှူးဖိနပ်အပေါ်ဖုံးများကို ပိုမိုထည့်သွင်းထားကြောင်းနှင့် အောက်ဆိုးလ်ကို ထုတ်လုပ်မည့်ဖိနပ်အရံရေအတိုင်း လိုအပ်ကြောင်းကိုလည်း ဖော်ပြခဲ့ပါသည်။ ခြေညှပ်ဖိနပ်အတွက် ရှူးဖိနပ်အပေါ်ဖုံးလိုအပ်ချက်ကို ထည့်သွင်းဖော်ပြထားကြောင်း စိစစ်တွေ့ရှိချက်ကိုလည်း ပေးပို့ခဲ့ပါသည်။

(ခ) စက်ပစ္စည်းဈေးနှုန်းများနှင့်CMPလုပ်ခတို့မှာ ဆီလျှော်ညီညွတ်မှုရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအမျိုးအစားမှာ ယေဘုယျအားဖြင့် ညီညွတ်မှုရှိကြောင်းတွေ့ရှိရပါသည်။

၂။ အဆိုပါသဘောထားမှတ်ချက်နှင့်ပတ်သက်၍ ထွန်းအပြည့်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်မှ ၂၉. ၉. ၂၀၀၈ ရက်စွဲပါစာဖြင့် ရှင်းလင်းတင်ပြချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) အဆိုပြုလွှာနှင့်အတူပူးတွဲပါရှိသော ဇယား(၄)တွင် ဖော်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့်ဇယား(၅)အရ ထုတ်လုပ်မည့် ဖိနပ်အရေအတွက်အားအခြေပြုတွက်ချက်လျှင် ပိုနေသည့် Shoe Upper Leather နှင့် Out Sole များထည့်သွင်းထားခြင်းမှာ အမှာစာအချို့ဆိုင်းငံ့ချိန်များတွင် စက်ရုံဝန်ထမ်းများ လုပ်ငန်းမပြတ်လပ်စေရေးနှင့်တစ်ဝက်တစ်ပျက်ကုန်ချောများ ထုတ်လုပ်နိုင်ရေးအတွက် ထည့်သွင်းဖော်ပြထားခြင်းဖြစ်ကြောင်း၊

(ခ) ဖော်ပြပါ တစ်ဝက်တစ်ပျက်ကုန်ချောများ အသုံးပြုထုတ်လုပ်သည့် ကုန်ချောဖိနပ်များအားလုံးကို ပြည်ပသို့တင်ပို့မည်ဖြစ်ကြောင်း၊

၃။ သို့ဖြစ်ပါ၍ ထွန်းအပြည့်ပြည်ဆိုင်ရာ ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်၏ ပြန်လည်ရှင်းလင်းတင်ပြချက်အရ ဖိနပ်ကုန်ကြမ်းများ ထည့်သွင်းဖော်ပြချက်မှာ ဖိနပ်ထုတ်လုပ်မှုသဘာဝနှင့်လုပ်ငန်းလိုအပ်ချက်အရ ဆီလျော်ညီညွတ်မှုရှိပါကြောင်း ဤစက်မှုလုပ်ငန်း၏ သဘောထားမှတ်ချက်အား စိစစ်ပြန်ကြားအပ်ပါသည်။

အေးမောက်
ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

မိတ္တူကို - အမှတ်(၁)စက်မှုဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်
စက်မှုညွှန်ကြားရေးနှင့်စစ်ဆေးရေးဦးစီးဌာန

{ ဤစက်မှုလုပ်ငန်း၏၁၅. ၉. ၂၀၀၈ ရက်စွဲပါစာအမှတ် ၇၀၀/၁၅၀၈/ စ-၄၄ ကို ရည်ညွှန်း၍ပေးပို့အပ်ပါသည်။



D;\Planning \UACT\ACT (NS) pmd (36)*

လျှို့ဝှက်

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ- ၉၉၂/၂၀၀၈ (၁၅၇၃၇)၊
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ စစ်မှန်သောကြယ် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် ( Real Star Manufacturing Co., Ltd.)မှ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အသနားခံ တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စစ်မှန်သောကြယ် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် ( Real Star Manufacturing Co., Ltd.) သည် မြေကွက်အမှတ် (၂၆)၊ ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန် (၂)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၁.၂၁) ဧက (၄၈၉၆.၇၀ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ ယင်း အဆိုပြုချက် နှင့် စပ်လျဉ်း၍ ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၁၀/ ၂၀၀၈) (၅-၃-၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် ကိစ္စကို ပြန်လည် ရုပ်သိမ်းခွင့်ပြုရန်၊ မြေနှင့် အဆောက်အဦကို ငှားရမ်းဆောင်ရွက်ခြင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ခွင့်ပြုချက်ရယူခြင်းနှင့် ကုမ္ပဏီမှတ်ပုံတင်ခွင့်လျှောက်ထား ခြင်း ကိစ္စတို့ နှင့် စပ်လျဉ်း၍ စိစစ်တင်ပြပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ-က)

၃။ အထက်ပါ ဆုံးဖြတ်ချက် အရ သက်ဆိုင်ရာ ဌာနများနှင့် စိစစ်ခဲ့ရာ "တိုင်းရင်းသား လုပ်ငန်းရှင်အချင်းချင်း မြေနှင့်အဆောက်အဦကို ငှားရမ်းဆောင်ရွက်နိုင်ကြောင်း"၊ "စက်မှုလုပ်ငန်း တစ်ခုအား ဘွိုင်လာအပါအဝင် စက်ပစ္စည်းများတပ်ဆင်ပြီး သက်ဆိုင်ရာဌာနမှစစ်ဆေး၍ ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ မှတ်ပုံတင် ထုတ်ပေးပါကြောင်း"၊ ကုမ္ပဏီဖွဲ့စည်း မှတ်ပုံတင် ခွင့်ပြုခဲ့ပြီး ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ အဆိုပါ စိစစ်ချက်များနှင့်အတူ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၂/၂၀၀၈) (၉-၇-၂၀၀၈) အစည်းအဝေးသို့ ပြန်လည် တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် ကိစ္စ ကို ပြန်လည် ရုပ်သိမ်းခွင့်ပြုရန်၊ လုပ်ငန်း ဆောင်ရွက်ခြင်း ကိစ္စကို ပြန်လည် စိစစ်တင်ပြရန်နှင့်၊ အဆိုပါ မြေကို မူလချထားစဉ်က သတ်မှတ်ချက် စည်းကမ်းများနှင့် ညီညွတ်မှု ရှိ- မရှိ ပြန်လည် စိစစ်ရန် ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ-ခ )

လျှို့ဝှက်

၅။ ယခုအခါ စစ်မှန်သောကြယ် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် ( Real Star Manufacturing Co., Ltd. ) မှ ရင်းနှီးမြှုပ်နှံသူ ဒေါ်ဇာနည်ရွှေ သည် ကော်မရှင် ခွင့်ပြုမိန့် ရရှိရန် ကော်မရှင် အဖွဲ့နှင့် လာရောက် တွေ့ဆုံ ရှင်းလင်း တင်ပြပြီး အောက်ပါ အတိုင်း စာဖြင့် အသနားခံ တင်ပြလာခြင်း ဖြစ်ပါသည်-(နောက်ဆက်တွဲ-ဂ)

(က) စစ်မှန်သောကြယ် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် သည် CMP စနစ် ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ကိုင်ရန် အတွက် ကုမ္ပဏီမှတ်ပုံတင် နှင့် ကော်မရှင် ခွင့်ပြုမိန့်တို့ကို တစ်ချိန်တည်း လျှောက်ထားခဲ့ရာ ကုမ္ပဏီမှတ်ပုံတင်ခွင့်ပြုမိန့်ကို (၃၀-၁၁-၂၀၀၇) နေ့စွဲပါ ခွင့်ပြုမိန့် အမှတ်၊ ၁၁၂၁ / ၂၀၀၇-၂၀၀၈ ကို ရရှိခဲ့ပြီး ဖြစ်ပါကြောင်း၊ ကော်မရှင် ခွင့်ပြုမိန့်မှာ ယခုတိုင် မရရှိ သဖြင့် စောင့်ဆိုင်းနေရ ပါကြောင်း၊

(ခ) နှစ်ပေါက် Main Order ကို Hong Kong နိုင်ငံရှိ Dickson Garment Ltd. မှ ရရှိ ရန် MOU ကိုလက်မှတ်ရေးထိုးခဲ့ရာ ကော်မရှင်ခွင့်ပြုမိန့် မရရှိသေးပါသဖြင့် Main Buyer ထံမှ Order များကိုလက်မခံနိုင် သေးပါကြောင်း၊

(ဂ) Buyer နှင့် MOU ချုပ်ဆိုခဲ့သည်မှာ (၂၉-၈-၂၀၀၈) နေ့ တွင် (၁) နှစ် ပြည့်ပြီးဖြစ်၍ Buyer မှ Order ဖျက်သိမ်းခဲ့ပါက ကုမ္ပဏီအနေဖြင့် နောက်ထပ် Buyer အသစ် ရှာဖွေရန်မှာ ယခုကာလများတွင် လွန်စွာခက်ခဲပါကြောင်း၊

(ဃ) ကုမ္ပဏီအနေဖြင့် ကော်မရှင်သို့အဆိုပြုလွှာစတင်စဉ်ကပင် မြေနှင့်အဆောက်အဦ ကို (၁)နှစ် အတွက် ငွေအကြေချေပြီးငှားရမ်းပြီးဖြစ်ပါကြောင်း၊ ယခုအခါ လုပ်ငန်း ဆောင်ရွက်ရန် စောင့်ဆိုင်းချိန် (၁)နှစ်ကျော်ပြီ ဖြစ်ပါ၍ နောက်တစ်နှစ် အတွက် ငှားရမ်းခငွေ ပေးချေပြီးလည်း ဖြစ်ပါကြောင်း၊ ကုမ္ပဏီ အနေဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်မရရှိမီ မြေနှင့်အဆောက်အဦ ငှားခများကို ပေးချေနေရ၍ ဆုံးရှုံးမှု ဖြင့် ကြုံတွေ့နေရပါကြောင်း၊

(င) ကုမ္ပဏီမှ ငှားရမ်းထားသော မြေနှင့် အဆောက်အဦမှာ ယခင် 7 Star Manufacturing Co., Ltd. နှင့် Silk Garment Co., Ltd. တို့မှ ငှားရမ်းပြီး ကော်မရှင်ခွင့်ပြုမိန့်ဖြင့် CMP လုပ်ငန်းများကို လုပ်ဆောင်ခဲ့ပါကြောင်း၊ ယခုအခါ ၎င်း ကုမ္ပဏီ နှစ်ခုစလုံး ကော်မရှင်ခွင့်ပြုမိန့်များ ပြန်လည်အပ်နှံပြီး ဖြစ်သဖြင့် လက်ရှိ အခြေအနေတွင် အရှုပ်အရှင်း ကင်းရှင်းသော မြေနှင့် အဆောက်အဦ ဖြစ်ပါကြောင်း၊

(စ) မြေနှင့်ပတ်သက်၍ အရှုပ်အရှင်း ကင်းရှင်းကြောင်း ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ စစ်ဆေးမှုကို ခံယူပြီးဖြစ်ပါကြောင်း၊

(ဆ) အဆိုပြုလွှာ၏ လုပ်ငန်းဆိုင်ရာ စံချိန်စံညွှန်းများအားလုံးကိုလည်း အမှတ် (၁) စက်မှုဝန်ကြီးဌာနမှ အသေးစိတ်စစ်ဆေးခဲ့ပြီး ဖြစ်ပါကြောင်း၊

(ဇ) ကုမ္ပဏီအနေဖြင့် ကုမ္ပဏီမှတ်ပုံတင် ရရှိပြီးချိန်တွင် စက်ကိရိယာများ ဝယ်ယူခြင်း၊ ကော်မရှင်ခွင့်ပြုမိန့် ရရှိသည်နှင့် စက်ရုံလည်ပတ်နိုင်ရန် မီးလိုင်းများ တပ်ဆင်ခြင်း၊ ကျွမ်းကျင်အလုပ်သမား ဝန်ထမ်းများ စုဆောင်းခြင်း၊ နယ်မှ လုပ်သားများအတွက် နေအိမ်များ ငှားရမ်းခြင်းအတွက် ကုန်ကျစရိတ်များစွာကို စိုက်ထုတ်ကုန်ကျခဲ့ပြီးလည်း ဖြစ်ပါကြောင်း။

(ဈ) ကုမ္ပဏီအနေဖြင့် ကော်မရှင်ခွင့်ပြုမိန့် မရရှိသေးသည့်အတွက် Order လက်ခံနိုင်ခြင်း မရှိသေးပါသဖြင့် စုဆောင်းပြီး ကျွမ်းကျင်ဝန်ထမ်းများကို စွန့်လွှတ်ရမည့်အခြေအနေတွင် ရှိပြီး တစ်ဘက်ကလည်း နှစ်ပေါက် ကိုယ်ပိုင် Order ပေးမည့် Buyer ကိုလည်း နည်းအမျိုးမျိုးဖြင့် တောင်းပန်နေရပါကြောင်း၊

(ည) Real Star ကုမ္ပဏီသည် မြန်မာအမျိုးသမီး (၂)ဦး တည်ထောင်သော ကုမ္ပဏီဖြစ်ပြီး ကော်မရှင်ခွင့်ပြုမိန့် စောင့်ဆိုင်းစဉ် (၁)နှစ်တာ ကာလအတွင်း စုဆောင်းခဲ့သော အရင်းအနှီးများလည်း ကုန်လုနီးပြီ ဖြစ်ပါကြောင်း၊

(ဋ) ကော်မရှင်ခွင့်ပြုမိန့် ချပေးပြီးပါက ကော်မရှင်၏ စည်းမျဉ်းစည်းကမ်းများအား လိုက်နာ၍ မူဘောင်အတွင်းမှ CMP လုပ်ငန်းကို ရိုးသားစွာ ကြိုးစား၍ အားကြိုးမာန်တက် ဆောင်ရွက်ပြီး မြန်မာအမျိုးသမီး အများစုဖြင့် ဆောင်ရွက်နေသော အထည်ချုပ်လုပ်ငန်းကို အမျိုးသမီးများ၏ ဘဝလုံခြုံရေးကို ရှေးရှု၍ အောင်မြင်စွာ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါကြောင်း၊

(ဌ) သို့ပါ၍ ကုမ္ပဏီအား သက်ညှာသောအားဖြင့် လည်းကောင်း၊ မြန်မာအမျိုးသမီး (၂)ဦး၏ ရိုးသားစွာစွမ်းဆောင်မှုအား အသိအမှတ်ပြုသောအားဖြင့်လည်းကောင်း၊ ဆုံးရှုံးခဲ့ပြီးသော (၁)နှစ်စာ ရင်းနှီးမြှုပ်နှံမှု ငွေကြေးအား စည်းမျဉ်း၊ စည်းကမ်း မူဘောင်အတွင်းမှ ပြန်လည် ဆည်ယူနိုင်ပါရန် ကော်မရှင် ခွင့်ပြုမိန့်အား ချပေးပါရန် အသနားခံ တင်ပြထားပါသည်။

၆။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ လမ်းညွှန်ချက်နှင့်အညီ ကော်မရှင်အနေဖြင့် လုပ်ငန်းကို ပြန်လည်စိစစ်ရာ၊ ကုန်ကြမ်း၊ ကုန်ချော၊ စက်အချိုးအစား ပြင်ဆင်တင်ပြချက်များသည် ဆီလျော်မှု ရှိကြောင်း၊ CMP ကြီးကြပ်ရေးကော်မတီမှ သဘောထား ပြန်ကြားထားကြောင်း တွေ့ရှိရပါသည်။

၇။ ၎င်းအပြင် ၁၈၉၈ ခုနှစ်၊ အောက်မြန်မာနိုင်ငံ မြို့နှင့် ကျေးရွာမြေများ အက်ဥပဒေ ပုဒ်မ- ၈ အရ အစိုးရထံမှ ဂရန် (သို့မဟုတ်) မြေငှားစာချုပ်ရရှိသူသည် မိမိလက်ဝယ်ရှိ မြေအား အသုံးပြုခွင့် နှင့် မြေပေါ်တွင် နေထိုင်ခွင့်တို့အား နိုင်ငံသား အချင်းချင်း လွှဲပြောင်း ပေးနိုင်သည့်

အခွင့်အရေးရှိကြောင်းသတ်မှတ်ထားပါသည်။ ယင်းသတ်မှတ်ချက်အရ နိုင်ငံသားတစ်ဦးပိုင်မြေနှင့် ယင်းမြေပေါ်ရှိအဆောက်အဦကို နိုင်ငံသားပိုင်ကုမ္ပဏီ(Real Star ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်) သို့ ငှားရမ်းအသုံးပြုခွင့်ပေးခြင်းသည် အဆိုပါ စည်းကမ်းချက်များနှင့် ညီညွတ်မှုရှိပါကြောင်း သက်ဆိုင်ရာဌာန၏ သဘောထားနှင့် စိစစ်ပြီး ပြန်လည်တင်ပြအပ်ပါသည်။ လုပ်ငန်းစီမံကိန်း၏ စီးပွားရေးဆိုင်ရာ အဓိကအချက်များကို ပူးတွဲ တင်ပြအပ်ပါသည်။

၈။ <u>ဆုံးဖြတ်ရန်အချက်</u>

စစ်မှန်သောကြယ် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် (Real Star Manufacturing Co., Ltd.)မှ အသနားခံတင်ပြလာပါသဖြင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ- မတူ။

၉။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်</u>

ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ် မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

<u>ကုန်သွယ်မှုမူဝါဒကောင်စီ</u>

ဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | စစ်မှန်သောကြယ် ထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (Real Star Manufacturing Co.,Ltd ) | ၁။ ဒေါ်ဇာနည်ရွှေ (ဒါရိုက်တာ) | တိုက်အမှတ်-၁၄၊ ရတနာလမ်း၊ လုံးချင်းအိမ်ရာ၊ ချင်းတွင်းရိပ်မွန်၊ ယုဇနဥယျာဉ် မြို့တော်၊ ဒဂုံမြို့သစ် ဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်မာလာဝင်း (ဒါရိုက်တာ) | ရဲစခန်းဝင်း၊ မိသားစုလိုင်း၊ ဆေးရုံရှေ့၊ သံလျှင်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၅၉၂၀၅၉၊ ဖက်စ်-၀၁-၅၉၂၀၅၉

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - မြေကွက်အမှတ်(၂၆)၊ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန်(၂)၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး - ဒေါ်ဇာနည်ရွှေ (ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ - ၁၁၂၀/၂၀၀၇-၂၀၀၈(၃၀-၁၁-၂၀၀၇)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၂၉-၁၁-၂၀၀၉

၇။ ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် - သမဝါယမဘဏ်လီမိတက် ၁၀၇၂၀၀၃၉၃၈

